# အီမာန်ပျက်စေသော

# အချက်များ

ရှိုင်းခ်မုဟမ္မဒ်ဗင်န်အဗ်ဒုလ်ဝဟားဗ်၏ စာကိုယ်နှင့်

ရှိုင်းခ်အဗ်ဒုလ်အဇီးဇ်ရာဂျိဟီး၏ ရှင်းလင်းချက်

ဘာသာပြန်

**ရှိုင်းခ်မွဖ်သီ ဖိုင်စွာလ် ကာစီမီ**

# ကျမ်းအမည်

## (نواقض الإسلام)

## အီမာန်ပျက်စေသော အချက်များ

*သိထားပါ။ အစ္စလာမ်ကို ပျက်စေသောအရာများမှာ (၁၀)ခု ရှိသည်။*

*၁။ တွဲဖက်မရှိသော၊ တစ်ပါးတည်းသော အလ္လာဟ် အရှင်မြတ်ကို ကိုးကွယ်ရာတွင် တစ်စုံတစ်ခု၊ တစ်ဦး တစ်ယောက်နှင့် တွဲဖက်သတ်မှတ်(ရှိရ်က်လုပ်)ခြင်း။ အလ္လာဟ်အရှင်မြတ်က မိန့်တော်မူထားသည်။*

4|48| ကောန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် တစ်စုံတစ်ရာကို မိမိနှင့် တွဲဘက်ယှဉ်ပြိုင် ကိုးကွယ်ခြင်းကို လွတ်ငြိမ်းချမ်းသာခွင့် အလျှင်း ပေးတော်မူမည်မ ဟုတ်ပေ။ သို့ရာတွင် ထိုတွဲဖက်ယှဉ်ပြိုင် ကိုးကွယ်မှု မှတစ်ပါး အခြား ပြစ်မှု ဒုစရိုက်တို့ကိုမူကား မိမိ အလိုရှိတော်မူသောသူအား လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူအံ့။

စင်စစ် ကောန် မည်သူမဆို (တစ်စုံတစ်ရာကို) အလ္လာဟ်အရှင်မြတ်နှင့် တွဲဖက် (ကိုးကွယ်) ပါလျှင် အလ္လာဟ်အရှင်မြတ်သည် ထို(ကဲ့သို့သော) သူအဖို့ 'ဂျန္နတ်' အမတသုခဘုံကို မုချကောန် ပိတ်ပင်ထားတော်မူအံ့။ ၎င်းပြင် ထိုသူ၏ လားရာဌာနသည် ငရဲမီးပင်ဖြစ်လတ္တံ့။ ထိုမှတစ်ပါး (ယင်းကဲ့သို့) မတရား ကျူးလွန်သောသူတို့အား ရိုင်းပင်းကူညီ စောင်မမည့်

*သူဟူ၍ကား တစ်စုံတစ်ယောက်မျှ ရှိလိမ့်မည်မဟုတ်ပေ။ (5/72)*

*ထိုတွဲဖက်ကိုးကွယ်မှုတွင် အလ္လာဟ်အပြင် အခြားအရာအတွက် သားကောင်းလှီးခြင်းလည်း ပါဝင်သည်။ ပမာအားဖြင့် - တစ်ဦးတစ်ယောက်က ဂျင်န်အတွက်၊ ကဗရ်သင်္ချိုင်းအတွက် သားကောင်းလှီးမည်ဆိုလျှင် သူသည် ရှိရ်က်ကို ကျူးလွန်လိုက်ပြီ။*

■ အချက် (၁) ၏ ရှင်းလင်းချက်

အီမာမ်အလ်ရှိုင်းခ်မုဟမ္မဒ်ဗင်န်အဗ်ဒုလ်ဝဟားဗ်(ရဟ်) တင်ပြထားသည့် ဤ(၁၀)ချက်သည် အစ္စလာမ်သာသနာကို ပျက်စေသော အချက်များ ဖြစ်သည်။ ယင်းအချက်များကို အီမာန်ပျက်စေသော အချက်များဟု ခေါ်ပါသည်။ အကြောင်းမှာ လူသားသည်

ထိုအချက်များအနက် တစ်ချက်ချက်ကို ကျူးလွန်ခဲ့ပါမူ သူ၏ အစ္စလာမ်သာသနာ ပျက်သွားသည်။ သူသည် မွတ်စ်လင်မ် မုအ်မင်န်အဖြစ်မှ မုရှ်ရစ်က်အဖြစ်သို့ ရောက်ရှိသွားသည်။ ရုပ်တုဆင်းတုကိုးကွယ်သူ အဖြစ်သို့ ရောက်ရှိသွားသည်။

ဤအဖြစ်ဆိုးမှ ကင်းလွတ်ရန် အလ္လာဟ်အရှင်မြတ်ထံ တောင်းဆိုပါသည်။

ဤဘာသာပျက်စေသော အချက်များသည် သာသနာကို ပျက်စေသည်။ သောင်ဟီးဒ်နှင့် အီမာန်ကို ပျက်စေသည်။ ပမာဆိုရသော် ဝူဇူပျက်စေသော အချက်များသည် ဝူဇူကို ပျက်စေသကဲ့သို့ပင် ဖြစ်သည်။ လူတစ်ဦးသည် ဝူဇူပြုထားပြီးနောက် လေလည်လိုက်မည်။ သို့မဟုတ် ကျင်ကြီးကျင်ငယ် သွား

လိုက်မည်ဆိုလျှင် သူ၏ ဝူဇူပျက်သွားသည်။ သူ၏ သန့်ပြန့်မှု ပျက်သွားသည်။ သူသည် ဝူဇူရှိပြီးနောက် ဝူဇူမရှိသောသူအဖြစ်သို့ ရောက်ရှိသွားသည်။ ထို နည်းအတိုင်းပင် သောင်ဟီးဒ်တရားကို လက်ကိုင် ထားသူတစ်ဦးသည် အစ္စလာမ်ကို ပျက်စေသော အချက်များအနက် တစ်ချက်ချက်ကို ကျူးလွန်ခဲ့ပါမူ သူ၏ ဘာသာပျက်သွားပြီးနောက် ရုပ်တုဆင်းတု ကိုးကွယ်သူတစ်ဦး ဖြစ်သွားပါသည်။ အစ္စလာမ့် အသိုင်းအဝန်းထဲက သူတစ်ဦး မဟုတ်တော့ပေ။ သူ သည် ထိုအခြေအနေဖြင့် သေဆုံးခဲ့ပါက ငရဲသား ဖြစ်လိမ့်မည်။ အလ္လာဟ်အရှင်မြတ်ကို ဘုတ်တုဖက် ကိုးကွယ်မှုနှင့် တွေ့ဆုံခဲ့ပါက အလ္လာဟ်အရှင်မြတ် သည် ၎င်းကို ခွင့်လွှတ်တော်မူမည်မဟုတ်။

အလ္လာဟ်အရှင်မြတ်က ထိုအတိုင်းမိန့်တော်မူထား
သည်။

اِنَّ اللّٰهَ لَا يَغۡفِرُ اَنۡ يُّشۡرَكَ بِهٖ وَ يَغۡفِرُ مَا دُوۡنَ ذٰلِكَ لِمَنۡ يَّشَآءُ ۚ

(၄၈) အမှန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် အရှင်
မြတ်နှင့် (အခြား တစ်စုံတစ်ရာကို) တွဲဖက်ကိုးကွယ်
မှုကို လွတ်ငြိမ်းချမ်းသာခွင့် လုံးဝ ပေးတော်မူမည်
မဟုတ်ပေ။ ၎င်းပြင် ထိုတွဲဖက် ကိုးကွယ်ခြင်းမှလွဲ
၍ အခြား ပြစ်မှုများကိုမူ အရှင်မြတ် အလိုရှိတော်
မူသော သူကို အရှင်မြတ်သည် လွတ်ငြိမ်းချမ်းသာ
ခွင့် ပေးသနားတော်မူမည်။ (စူရဟ်နိစာအ်၊၄၈)

ထို့ပြင် အလ္လာဟ်အရှင်မြတ်သည် ၎င်း၏
ကောင်းမှု အားလုံးကို အချည်းအနှီးအလဟာသ ဖြစ်

စေတော်မူလိုက်မည်။ အလ္လာဟ်အရှင်မြတ်က မိန့်တော်မူထားသည်။

وَ لَوۡ اَشۡرَکُوۡا لَحَبِطَ عَنۡہُمۡ مَّا کَانُوۡا یَعۡمَلُوۡنَ ﴿۸۸﴾

(၈၈) ၎င်း(တို့အား လမ်းညွှန် ပြသခြင်း ခံကြရသော သာသနာ)သည် အလ္လာဟ် အရှင်မြတ်၏ တရားတော်ပင် ဖြစ်သည်။ အရှင်မြတ်သည် အရှင်မြတ်၏ ကျွန်များထဲမှ အလိုရှိတော်မူသော သူကို ထိုတရားတော်ဖြင့် လမ်းမှန်ကို ညွှန်ကြားပြသ ပို့ဆောင်တော်မူသည်။ ထို့နောက် အကယ်၍ သူတို့သည် တစ်စုံတစ်ရာကို အလ္လာဟ် အရှင်မြတ်နှင့် တွဲဖက်ကိုးကွယ်ခဲ့ကြလျှင် သူတို့ ပြုလုပ်ခဲ့သော ကောင်းမှုဟူသမျှသည် အမှန်စင်စစ် အချည်းနှီး အကျိုးမဲ့ ဖြစ်သွားခဲ့လိမ့်မည်။ (စူရဟ်အန်အာန်၊၈၈)

နောက်တစ်နေရာတွင် မိန့်တော်မူထားသည်။

وَ قَدِمۡنَاۤ اِلٰی مَا عَمِلُوۡا مِنۡ عَمَلٍ فَجَعَلۡنٰہُ ہَبَآءً مَّنۡثُوۡرًا ﴿۲۳﴾

(၂၃) ထို့ပြင် ငါအရှင်မြတ်သည် (ထိုနေ့တွင်) သူတို့ ပြုလုပ်ခဲ့ကြသော လုပ်ရပ်ဘက်သို့ လှည့်တော်မူမည်။ ထို့ပြင် ငါအရှင်မြတ်သည် ထိုလုပ်ရပ်ကို ဖြန့်ကြဲထားသော မြူမှုန့်များ ဖြစ်စေတော်မူမည်။ (စူရဟ်ဖုရ်ကားန်၊၂၃)

ထို့ပြင် မုရှ်ရစ်က်အပေါ်တွင် ဂျန္နသ်သည်လည်း ဟရာမ်ဖြစ်ပါသည်။ အလ္လာဟ်အရှင်မြတ်က မိန့်တော်မူထားသည်။

اِنَّہٗ مَنۡ یُّشۡرِکۡ بِاللّٰہِ فَقَدۡ حَرَّمَ اللّٰہُ عَلَیۡہِ الۡجَنَّۃَ وَ مَاۡوٰىہُ النَّارُ ؕ وَ مَا لِلظّٰلِمِیۡنَ مِنۡ اَنۡصَارٍ ﴿۷۲﴾

အမှန်မှာ မည်သူမဆို အလ္လာဟ် အရှင်မြတ်နှင့် တစ်စုံတစ်ရာကို တွဲဖက် (ကိုးကွယ်)လျှင် အလ္လာဟ် အရှင်

မြတ်သည် ထိုသူ့အတွက် ဂျန္နသ် သုခဘုံကို အမှန်ပင် ဟရာမ် ပြုလုပ် တားမြစ်ထားတော်မူမည်။ ၎င်းပြင် သူ၏ နေရာထိုင်ခင်းသည် ငရဲမီးပင် ဖြစ်သည်။ ထို့ပြင် မတရား ကျူးလွန်သော သူများအတွက် မည်သည့် ကူညီသူမျှ ရှိမည်မဟုတ်ပေ။ (စူရဟ် မာအေဒဟ်၊ ၇၂)

ရှိရ်က် ယှဉ်တွဲတုဖက် ကိုးကွယ်မှုသည် ကုသိုလ်ကောင်းမှု အားလုံးကို အချည်းနှီး အလဟဿ ဖြစ်စေသည်။ ထို့ပြင် ရှိရ်က်ကျူးလွန်သူကို အစ္စလာမ့်ဘောင်အတွင်းမှ ထွက်စေပြီးနောက် ငရဲဘုံတွင် ထာဝရ ဝင်ရောက်စေလိမ့်မည်။ အလ္လာဟ်အရှင်မြတ်ကို ထိုရှိရ်က်နှင့် တွေ့ဆုံသူပေါ်တွင် ဂျန္နသ်သည် ဟရာမ် ဖြစ်သွားလိမ့်မည်။

ထိုအဖြစ်ဆိုးမှ ကင်းလွတ်ရန် အလ္လာဟ်အရှင်မြတ်ထံ တောင်းဆိုပါသည်။

သာသနာကို ပျက်စေသော အချက်များတွင် ပထမအချက်မှာ အလ္လာဟ်အရှင်မြတ်နှင့် တုဖက်ကိုးကွယ်မှုဖြစ်ပါသည်။ အကြင်သူသည် အီဗာဒသ် အမျိုးအစား အမျိုးမျိုးအနက် တစ်မျိုးမျိုးတွင် အလ္လာဟ်အရှင်မြတ်နှင့် တုဖက်ကိုးကွယ်ပါက သူ၏ သာသနာ ပျက်သွားချေပြီ။ ပမာအားဖြင့် သူသည် အလ္လာဟ်အရှင်မြတ်အပြင် တစ်ဦးတစ်ယောက်ကို ဟစ်ခေါ်တသမည်။ သို့မဟုတ် အလ္လာဟ်အရှင်မြတ် အပြင် တစ်စုံတစ်ခုအတွက် သားကောင်ကို ဇဗဟ်လုပ်မည်။ သို့ဆိုလျှင် သူ၏ အီမာန်ပျက်ပြီ။

ထို့ကြောင့် ကျမ်းရှင်က ဤသို့ပြောဆိုထားသည်။ ရှိရက်အမျိုးအစားထဲတွင် အလ္လာဟ်အရှင်မြတ်မှ လွဲ၍ အခြားသူအတွက် သားကောင် ဇဗဟ်လုပ်ခြင်းလည်း ပါသည်။ ပမာအားဖြင့် ဆိုသော် ဂျင်န်တစ်ဦး အတွက်၊ သို့မဟုတ် ကဗရ်သင်္ချိုင်း တစ်ခုအတွက် သို့မဟုတ် တမန်တော် တစ်ပါးအတွက်၊ သို့မဟုတ် အလ္လာဟ်အရှင်မြတ်၏ ကောင်းကင်တမန်များ အနက် ကောင်းကင်တမန် တစ်ပါးပါးအတွက် သို့မဟုတ် အခြားစသည့် သူတစ်ဦးဦးအတွက် သားကောင်ကို ဇဗဟ်လုပ်သော သူပင်ဖြစ်သည်။

ထိုနည်းအတိုင်းပင် အလ္လာဟ်အရှင်မြတ်မှ လွဲ၍ တစ်ဦးတစ်ယောက်ကို ဟစ်ခေါ်တသသူ၊ သို့မဟုတ် အလ္လာဟ်အရှင်မြတ်မှလွဲ၍ တစ်ဦးတစ်ယောက်အတွက် သားကောင်ကို ဇဗဟ်လုပ်သူ၊

သို့မဟုတ် အလ္လာဟ်အရှင်မြတ်မှလွဲ၍ တစ်ဦးတစ်ယောက်အတွက် နဇရ်ကိုးသူ၊ သို့မဟုတ် အလ္လာဟ်အရှင်မြတ်မှ လွဲ၍ တစ်ဦးတစ်ယောက်အတွက် ရှုကုအ်လုပ်သူ၊ သို့မဟုတ် စဂ်ျဒဟ်လုပ်သူ၊ သို့မဟုတ် အလ္လာဟ်အရှင်မြတ်၏ အိမ်တော်မှ လွဲ၍ အခြားအိမ်တော်တွင် တစ်ဦးတစ်ယောက်ထံ နီးကပ်မှုရရှိရန် သွဝါးဖ်လုပ်သောသူ၊ သို့မဟုတ် ရှိရ်က်၏ အမျိုးအစားများအနက် တစ်ခုခုကို ကျူးလွန်သူတို့ ဖြစ်ပါသည်။ သို့ဖြစ်ရာ အကြင်သူသည် အလ္လာဟ်အရှင်မြတ်ကို ခဝပ်ကိုးကွယ်ရာ၌ အဖန်ဆင်းခံ တစ်ခုခုကို ဖက်စပ်ကိုးကွယ်ခဲ့ပါမူ သူ၏ အစ္စလာမ်၊ သူ၏ သာသနာပျက်သွားချေပြီ။ ဤသည် ဘာသာတရားကို ပျက်စေသော၊ အီမာန်ကို ပျက်စေသော

ပထမအချက်ပင် ဖြစ်ပေသည်။ ဤအဖြစ်ဆိုးမှ အလ္လာဟ်အရှင်မြတ်ထံ ခိုလှုံပါသည်။

*၂။ အကြင်သူသည် မိမိနှင့် အလ္လာဟ်၏ကြားတွင် ကြားခံများ ပြုလုပ်၍ ထိုကြားခံအရာများကို ဟာစ် ခေါ်တသကကာ ၎င်းတို့ထံမှ ရှဖာအသ်အသနားခံမှုကို တောင်းဆိုမည်၊ ၎င်းတို့အပေါ် အားကိုးမည်ဆိုလျှင် ထိုသူသည် ကာဖိရ်ဖြစ်ကြောင်း ပညာရှင်များ ညီညွတ်သည်။*

■ အချက် (၂)၏ ရှင်းလင်းချက်

ဤသည် ရှိရ်က်၏ ဒုတိယအမျိုးအစားဖြစ်ပါသည်။ ရှိရ်က်သည် အားလုံးကို ခြုံငုံပါဝင်သော အရာတစ်ခု ဖြစ်သည်။ ဤအချက်ကတော့ အထူးအချက် ဖြစ်

သည်။ ထို့ကြောင့် ယင်းအချက်ကိုလည်း ဖော်ပြ လိုက်ခြင်းဖြစ်သည်။ အကြောင်းမှာ ဤအချက်သည် လည်း ရှိရက်ထဲတွင် ပါဝင်ပါသည်။ ပမာအားဖြင့် သူသည် မိမိနှင့် အလ္လာဟ်အရှင်မြတ်၏ ကြားတွင် မုဟမ္မဒ်(ဆွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်)ကို ကြားခံ အဖြစ် သတ်မှတ်မည်။ တမန်တော်မြတ်ကို ဤသို့ ဟစ်ခေါ်တသမည်။ အို...မုဟမ္မဒ်၊ ကျွန်တော်မျိုးကို ကယ်တင်ပါ။ အို...မုဟမ္မဒ်၊ မိမိ ဖန်ဆင်းမွေးမြူရှင် ထံတွင် ကျွန်တော်မျိုးအတွက် အသနားခံပေးပါ။ ထိုသို့ ပြုခြင်းအားဖြင့် သူသည် မုဟမ္မဒ် (ဆွလ္လလ္လာ ဟို့အလိုင်ဟိဝစလ္လမ်)ကို မိမိနှင့် အလ္လာဟ်အရှင်မြတ် ၏ ကြားတွင် ကြားခံအဖြစ် သတ်မှတ်လိုက်ခြင်း ဖြစ်သည်။ သို့မဟုတ် ပမာဆိုရသော် သူသည် ကောင်းကင်တမန် တစ်ပါးပါး၊ သို့မဟုတ် ဝလီသူ

တော်စင် တစ်ပါးပါး၊ သို့မဟုတ် ဂျင်န်တစ်ဦးဦးကို၊ သို့မဟုတ် သင်္ချိုင်းတစ်ခုခုကို မိမိနှင့် အလ္လာဟ် အရှင်မြတ်၏ ကြားတွင် ကြားခံအဖြစ် သတ်မှတ်မည်။ သို့မဟုတ် နေ၊ သို့မဟုတ် လတို့ကို ဟစ်ခေါ်တသ၍ မိမိနှင့် အလ္လာဟ်အရှင်မြတ်၏ ကြားတွင် ကြားခံအဖြစ် သတ်မှတ်မည်။ ထိုသို့ ဟစ်ခေါ်တသခြင်းအားဖြင့် သူ၏ ရည်ရွယ်ချက်မှာ ထိုအရာသည် သူနှင့် အလ္လာဟ်အရှင်မြတ်၏ ကြားတွင် ကြားခံဖြစ်ရန်ဖြစ်သည်။ သို့မဟုတ် ထိုကြားခံအရာအတွက် သားကောင်ကို သူက ဇဗဟ်လုပ်မည်။ သို့မဟုတ် ထိုကြားခံအရာအတွက် နဇရ်ကိုးမည်။ သို့မဟုတ် သူနှင့် အလ္လာဟ်အရှင်မြတ်၏ ကြားတွင် ထိုအရာသည် ကြားခံ လှေခါးတစ်ခု ဖြစ်ဖို့ရန် ထိုအရာကို ဟစ်ခေါ်တသမည် ဆိုလျှင်လည်း အီမာန်

ပျက်သည်။ ထိုသို့ ဟစ်ခေါ်တသ ပြီးနောက် ထိုအရာများသည် ၎င်းကို အလ္လာဟ်အရှင် မြတ်ထံပါးသို့ နီးကပ်စေလိမ့်မည်ဟု သူကြွေးကြော်ပါကလည်း မုရှ်ရစ်က်ပင်ဖြစ်သည်။ ထိုအတိုင်းပင် အလ္လာဟ် အရှင်မြတ်က မိန့်တော်မူထားသည်။

وَ الَّذِيْنَ اتَّخَذُوْا مِنْ دُوْنِهٖٓ اَوْلِيَآءَ ۘ مَا نَعْبُدُهُمْ

ထို့ပြင် အကြင်သူများသည် အရှင်မြတ်မှ လွဲ၍ အခြား ကာကွယ် စောင့်ရှောက်သူများ ပြုလုပ်ခဲ့ကြပြီး ၎င်းတို့သည် (ဤသို့ ပြောဆိုကြသည်-) ကျွန်ုပ်တို့အား အလ္လာဟ် အရှင်မြတ်နှင့် နီးကပ်စေရန် အတွက်သာ ကျွန်ုပ်တို့သည် ၎င်းတို့အား ကိုးကွယ်ကြပါသည်။ (စူရဟ်ဇုမရ်၊ ၃)

၎င်းတို့သည် ဤသို့ ပြောလျက် ရှိကြသည်။ ထို အရာများကို ကျွန်ုပ်တို့ ကိုးကွယ်ရသည့် အကြောင်း အရင်းမှာ အလ္လာဟ်အရှင်မြတ်ထံပါးသို့ ကျွန်ုပ်တို့ကို ဤအရာများက နီးကပ်မှု ပေးရန်အတွက်သာလျှင် ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်က ထိုသို့ ပြုလုပ် သူများကို ကာဖိရ်အဖြစ် သတ်မှတ်တော်မူပြီး၊ ဤ စကားကြောင့် သူတို့သည် လိမ်ညာသူများ ဖြစ်သည် ဟုလည်း သတ်မှတ်တော်မူခဲ့သည်။

إِنَّ اللَّهَ يَحْكُمُ بَيْنَهُمْ فِي مَا هُمْ فِيهِ يَخْتَلِفُونَ ۗ إِنَّ اللَّهَ لَا يَهْدِي مَنْ هُوَ

كَاذِبٌ كَفَّارٌ ﴿٣﴾

အမှန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် (ကိယာ မသ်နေ့တွင်) သူတို့ အချင်းချင်း ကွဲလွဲ ငြင်းခုံနေ ကြသည့် ကိစ္စနှင့် ပတ်သက်၍ သူတို့၏ အကြားတွင်

စီရင် ဆုံးဖြတ်တော်မူမည်။ အမှန်စင်စစ် အလ္လာဟ် အရှင်မြတ်သည် လိမ်လည်သူ၊ အလွန် ကျေးဇူးကန်း သူကို လမ်းမှန် ညွှန်ကြား ပြသတော်မူမည် မဟုတ်ပေ။ (စူရဟ်ဇုမရ်၊ ၃)

သူတို့သည် ဤစကားတွင် လိမ်လည်သူများသာ လျှင်ဖြစ်သည်။ သူတို့သည် ဤလုပ်ရပ်ကြောင့် ကာဖိရ်များဖြစ်သွားချေပြီ။ အလ္လာဟ်အရှင်မြတ်က မိန့်တော်မူသည်။

وَيَعْبُدُونَ مِنْ دُونِ اللّٰهِ مَا لَا يَضُرُّهُمْ وَلَا يَنْفَعُهُمْ وَيَقُولُونَ هَٰؤُلَاءِ

شُفَعَاؤُنَا عِنْدَ اللّٰهِ

၁၈) ထို့ပြင် သူတို့သည် အလ္လာဟ် အရှင်မြတ်အား စွန့်ပြီး အကြင်အရာများကို ကိုးကွယ်ကြသည်။ ထို အရာများသည် သူတို့အား နစ်နာစေရန်လည်း မပြု

လုပ်နိုင်ပေ၊ ၎င်းပြင် သူတို့အား အကျိုး ဖြစ်ထွန်း စေရန်လည်း မပြုလုပ်နိုင်ပေ။ ၎င်းနောက် သူတို့က ပြောဆိုကြသည်- "ဤအရာများသည် ကျွန်ုပ်တို့အား အလ္လာဟ် အရှင်မြတ် ထံတော်၌ ကြားဝင် အသနား ခံပေးမည့် အရာများပင် ဖြစ်ကြသည်။" (စူရဟ် ယူနွတ်စ်၊ ၁၈)

ထို့ကြောင့် အကြင်သူသည် မိမိနှင့် အလ္လာဟ်အရှင် မြတ်၏ ကြားတွင် ဟစ်ခေါ်တသရန်၊ သားကောင်ကို ဇဗဟ်လုပ်ရန်၊ နဇရ်ကိုးရန်၊ အားကိုးရန်၊ တစ်စုံ တစ် ခုကို ကြားခံအဖြစ်ထားခဲ့ပါက ထိုသူသည် မွတ်စ် လင်မ်တို့၏ တညီတညွတ်တည်း ဆုံးဖြတ်ချက်အရ ကာဖိရ်ပင်ဖြစ်သည်။ ဤအဖြစ်ဆိုးမှ အလ္လာဟ် အရှင်မြတ်ထံ ခိုလှုံပါသည်။

*၃။ မုရ်ှရိက်(အခြားအရာတစ်ခုခုကို အလ္လာဟ်နှင့် တွဲဖက်ယှဉ်ပြိုင်ကိုးကွယ်သူ)များအား ကာဖိရ်ဟု မသတ်မှတ်သူ၊ သို့မဟုတ် ၎င်းတို့ ကာဖိရ်ဖြစ်ခြင်းမှာ သံသယဖြစ်သူ၊ သို့မဟုတ် ၎င်းတို့၏ လမ်းစဉ်ကို မှန်သည်ဟု မှတ်ယူသူသည် ကာဖိရ်ဖြစ်သည်။*

■ အချက် (၃)၏ ရှင်းလင်းချက်

အီမာန်ကို ပျက်စေသော ဤအချက်၏ သဘောမှာ သူသည် မုရ်ှရစ်က်တို့ ကာဖိရ် ဖြစ်ကြောင်းကို မယုံကြည်သူဖြစ်သည်။ မုရ်ှရစ်က်ဟု ပြောရတွင် ကုဖ်ရ်အမျိုးအစား၊ သွေဖီမှု အမျိုးအစားအားလုံးကို ခြုံငုံပါဝင်ပါသည်။ ကာဖိရ်တိုင်းသည် မုရ်ရစ်က်ဖြစ်သည်။ သို့ဖြစ်ရာ အကြင်သူသည် ကာဖိရ်ကို

ကာဖိရ်ဟု မသတ်မှတ်ပါက သူသည်လည်း ယင်း ကာဖိရ်ကဲ့သို့ပင် ဖြစ်သွားပေမည်။ အကြင်သူသည် ယဟူဒီကို ကာဖိရ်ဟု မသတ်မှတ်ပါက၊ သို့မဟုတ် နဆ္ဖ်ရာနီကို ကာဖိရ်ဟု မသတ်မှတ်ပါက၊ သို့မဟုတ် မဂျူစီကို ကာဖိရ်ဟုမသတ်မှတ်ပါက၊ သို့မဟုတ် ရုပ်တုဆင်းကိုးကွယ်သူများကို ကာဖိရ်ဟု မသတ် မှတ်ပါက၊ သို့မဟုတ် မုနာဖစ်က်တို့ကို ကာဖိရ်ဟု မသတ်မှတ်ပါက၊ သို့မဟုတ် ကွန်မြူနစ်တို့ကို ကာဖိရ်ဟု မသတ်မှတ်ပါက ထိုသူလည်း ကာဖိရ်ပင် ဖြစ်သည်။ ထိုအတိုင်းပင် ယင်းပုဂ္ဂိုလ်များ ကာဖိရ် ဖြစ်ကြောင်းကို သံသယထားသူသည်လည်း ကာဖိရ် ပင်ဖြစ်ပါသည်။ ပမာအားဖြင့် သူပြောမည်။ ကျွန်ုပ်မသိပါ။ ယဟူဒီတို့လည်း အမှန်တရား အပေါ် မှာ ရှိကောင်းရှိနိုင်ပေသည်။ သို့မဟုတ် သူက ဤ

သို့ပြောမည်။ မည်သည့်လူသားပင်ဖြစ်စေ ယဟူဒီ သာသနာ၊ နဆ်္ဂရာနီ သာသနာတို့ကို ကိုင်းရှိုင်း ကျင့်သုံးနိုင်သည်။ အစ္စလာမ်ကိုလည်း ကျင့်သုံးနိုင် သည်။ အားလုံးသည် မိုးကောင်းကင်မှ ကျသော သာသနာများပင်ဖြစ်သည်။ ဤသို့ ပြောဆိုသည့် သူသည်လည်း ကာဖိရ်ပင်ဖြစ်သည်။ ယခုခေတ်တွင် အချို့သူများက ဤသာသနာ ၃ ခုကြား နီးစပ်ရန် အတွက် ဖိတ်ခေါ်နေကြသည်။ ဤယုံကြည်ချက် ထားသူသည်လည်း ကာဖိရ်ပင်ဖြစ်သည်။ ထို့ကြောင့် ယဟူဒီတို့သည် ကာဖိရ်ဖြစ်ကြောင်း ယုံကြည်ရ မည်။ ၎င်းတို့သည် သာသနာအမှားပေါ်တွင် ရှိ ကြောင်း ယုံကြည်ရမည်။ ၎င်းတို့နှင့် ၎င်းတို့၏ သာသနာမှ ကျွန်ုပ်တို့ ကျွန်ုပ်တို့ မပတ်သက်ကြောင်း ကြေညာရမည်။ အလ္လာဟ် အရှင်မြတ်အတွက် ၎င်း

တို့ကို အမုန်းထားရမည်။ နဆွဲရာနီများသည်လည်း ထိုနည်းအတိုင်းပင် ဖြစ်သည်။ ၎င်းတို့ ကာဖိရ်ဖြစ်ကြောင်း ကျွန်ုပ်တို့ ယုံကြည်ရမည်။ ထို့အတူ ရုပ်တုဆင်းတုကိုးကွယ်သူများ၊ မီးကိုးကွယ်ကြသော မဂျူစီများကိုလည်း ကာဖိရ်ဟုသာ သတ်မှတ်ရမည်။

ထို့အတူ ထိုကာဖိရ်များသည် ကာဖိရ် ဟုတ်မဟုတ် ဟူ၍ သံသယဖြစ်သူသည်လည်း ကာဖိရ်ပင် ဖြစ်သည်။ ပမာအားဖြင့် သူက ပြောမည်။ ယဟူဒီတို့သည် ကာဖိရ် ဟုတ်ပါသလား။ သို့မဟုတ် ကာဖိရ် မဟုတ်ဘူးလား ဆိုသည့် အချက်ကို ကျွန်ုပ်မသိပါ။ ၎င်းတို့သည်လည်း အမှန်တရား အပေါ်တွင် ရှိကောင်းရှိနိုင်ပေသည်ဟု ပြောဆိုသူလည်း ကာဖိရ် ဖြစ်သည်။ ထို့ကြောင့် သူတို့သည် ကာဖိရ်ဖြစ်

ကြောင်း အတိအကျ အခိုင်အမာ ယုံကြည်ရပေ လိမ့်မည်။ ထိုနည်းအတိုင်းပင် ထိုဘာသာခြားတို့၏ လမ်းစဉ်သည် မှန်ကန်သည်ဟု သတ်မှတ်၍ ၎င်းတို့ သည်လည်း မှန်ကန်သော သာသနာအပေါ်တွင် ရှိ သည်။ သို့မဟုတ် မှန်ကန်သော လမ်းစဉ်အပေါ်တွင် ရှိသည်ဟု သတ်မှတ်သူသည်လည်း ကာဖိရ်ဖြစ်ပါ သည်။ အကြောင်းမှာ မုရ်ှရစ်က်များကို ကာဖိရ်ဟု မသတ်မှတ်သူသည် သွာဂူးသ်ဟူသော မိစ္ဆာကို မငြင်းပယ်ရာ ရောက်ပေသည်။ သောင်ဟီးဒ် အထ မြောက်ရန်အတွက် အချက် ၂ ချက်လိုအပ်သည်။ တစ်ခုမှာ အလ္လာဟ်အရှင်မြတ်အပေါ် သက်ဝင်ယုံ ကြည်ခြင်းနှင့် နောက်တစ်ခုမှာ သွာဂူးသ်ဟူသော မိစ္ဆာကို ငြင်းပယ်ခြင်းဖြစ်သည်။ အကြင်သူသည် မုရ်ှရစ်က်များဖြစ်သော ယဟူဒီ၊ နဆွ်ရာနီတို့ကို

ကာဖိရ်ဟု မသတ်မှတ်ပါက ထိုသူသည် သွာဂူးသ် ဟူသော မိစ္ဆာကို မငြင်းပယ်ရာ ရောက်ပေသည်။ ထို့ကြောင့် သူ၏ သောင်ဟီးဒ် တရားသည် မမှန်ကန်ပေ။ သူ၏ အီမာန်သည် မမှန်ကန်ပေ။ ထို့ကြောင့် သောင်ဟီးဒ်တရားတွင် အချက် ၂ ချက်လိုအပ်ပေသည်။ တစ်ခုမှာ သွာဂူးသ်ဟူသော မိစ္ဆာကို ငြင်းပယ်ခြင်းနှင့် နောက်တစ်ခုမှာ အလ္လာဟ်အရှင်မြတ်ကို သက်ဝင်ယုံကြည်ခြင်းဖြစ်ပါသည်။

ဤအချက်သည် သောင်ဟီးဒ် သစ္စာတရားစကားတွင် ပါရှိပြီးသားဖြစ်ပေသည်။ لا إله إلا الله ဤစကားသည် သွာဂူးသ် ဟူသော မိစ္ဆာကို ငြင်းပယ်ခြင်းဖြစ်သည်။ لا إله ဤသည် သွာဂူးသ်မိစ္ဆာကို ငြင်းပယ်ခြင်း ဖြစ်ပြီး إلا الله ဤသည် အလ္လာဟ်အရှင်မြတ်ကို သက်ဝင် ယုံကြည်ခြင်း ဖြစ်သည်။

အကြောင်းမှာ لا إله إلا الله ဟူသည့် စကားသည် ကိုးကွယ်မှု အမျိုးအစား အလုံးစုံကို အလ္လာဟ် အရှင်မြတ်မှ လွဲ၍ မည်သူမှ မထိုက်တန်ကြောင်း ငြင်းပယ်ခြင်းသာလျှင် ဖြစ်ပေသည်။ သွာဂူးသ် မိစ္ဆာကို ငြင်းပယ်ခြင်းသည် အလ္လာဟ်အရှင်မြတ်မှ လွဲ၍ အခြားမည်သူမှ ခဝပ်ကိုးကွယ်မှုကို မထိုက် တန်ကြောင်း ငြင်းပယ်ခြင်းသာလျှင် ဖြစ်သည်။ သွာဂူးသ်ကို မုန်းတီးခြင်းသည်လည်း ကုဖ်ရ်ကို မုန်းတီးခြင်းပင်ဖြစ်သည်။ ထို့ကြောင့် မုရှ်ရစ်က်တို့ ကို အလ္လာဟ်အရှင်မြတ်အတွက် မုန်းတီးရပေလိမ့် မည်။ အလ္လာဟ်အရှင်မြတ်က အိဗ်ရာဟီးမ်(عليه السلام) နှင့် ပတ်သက်၍ ဤသို့ မိန့်တော်မူထားသည်။

قَدْ كَانَتْ لَكُمْ أُسْوَةٌ حَسَنَةٌ فِي إِبْرَاهِيمَ وَالَّذِينَ مَعَهُ ۖ إِذْ قَالُوا لِقَوْمِهِمْ

إِنَّا بُرَآءُ مِنكُمْ وَمِمَّا تَعْبُدُونَ مِن دُونِ اللَّهِ كَفَرْنَا بِكُمْ وَبَدَا بَيْنَنَا وَ

بَيْنَكُمُ الْعَدَاوَةُ وَالْبَغْضَاءُ أَبَدًا حَتَّىٰ تُؤْمِنُوا بِاللَّهِ وَحْدَهُ

(၄) အမှန်စင်စစ် အသင်တို့ အတွက် (တမန်တော်) အိဗ်ရာဟီမ် နှင့်တကွ ၎င်းနှင့်အတူ ရှိခဲ့သည့်သူများတွင် ကောင်းမြတ်သော စံနမူနာများ ရှိသည်။ တစ်ခါတွင် ၎င်းတို့သည် ၎င်းတို့၏ အမျိုးသားများအား (ဤသို့) ပြောဆိုခဲ့ကြသည်။ အမှန်စင်စစ် ကျွန်ုပ်တို့သည် အသင်တို့ သာမက အလ္လာဟ် အရှင်မြတ်မှ လွဲ၍ အသင်တို့ ကိုးကွယ်ကြသည့် အရာများနှင့်လည်း မသက်ဆိုင်သူများ ဖြစ်ကြသည်။ ကျွန်ုပ်တို့သည် အသင်တို့အား ငြင်းပယ်လိုက်ကြပြီ ဖြစ်သည်။ အသင်တို့သည် တစ်ပါးတည်း ဖြစ်သော

အလ္လာဟ် အရှင်မြတ်ကို မယုံကြည်သမျှ ကျွန်ုပ်တို့နှင့် အသင်တို့၏ အကြားတွင် ရန်ငြိုးနှင့် မုန်းတီးမှုသည် အမြဲမပြတ် ဖြစ်ပေါ်လျက် ရှိနေမည် ဖြစ်သည်။ (စူရဟ်မုမ်သဟိနဟ်၊ ၄)

ဤသည် အိဗ်ရာဟီးမ်(အလိုင်ဟိစ္စလာမ်)၏ လမ်းစဉ်ဖြစ်သော၊ ဖြောင့်မတ်မှန်ကန်သော လမ်းစဉ်ပင် ဖြစ်သည်။ ထိုလမ်းစဉ်မှာ အသင်သည် အလ္လာဟ် အရှင်မြတ်အတွက် သာသနာကို သီးသန့် ပြု၍ ကိုးကွယ်ခြင်းပင် ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်မှလွဲ၍ အခြားအရာကို ကိုးကွယ်ခြင်းတို့မှ အပြီးအသတ် စွန့်လွှတ်ရှောင်ဖယ်ရမည်။ အရှင်မြတ်အတွက်မှ လွဲ၍ အခြားအီဗာဒသ်များကို ငြင်းပယ်ရမည်။ အရှင်မြတ်မှလွဲ၍ အခြားသူကို အီဗာဒသ်လုပ်သူများကိုလည်း အမုန်းထားရပေလိမ့်မည်။

*၄။ အခြားလမ်းညွှန်မှုက တမန်တော်မြတ် (ဆွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်)၏ လမ်းညွှန်မှုထက် ပိုပြည့်စုံသည်၊ သို့မဟုတ် အခြားသူ၏ စီရင်ဆုံးဖြတ်ချက်က တမန်တော်မြတ်(ဆွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်)၏ စီရင်ဆုံးဖြတ်ချက်ထက် ပိုကောင်းသည်ဟု ယုံကြည်သူသည် ကာဖိရ်ဖြစ်သည်။ သူ၏ ပမာမှာ- သ္ဝာဂူးသ်(အယူမှားမိစ္ဆာများ)၏ စီရင်ဆုံးဖြတ်ချက်ကို တမန်တော်မြတ်(ဆွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်)၏ စီရင်ဆုံးဖြတ်ချက်ထက် ပိုဦးစားပေးသူတို့ကဲ့သို့ ဖြစ်သည်။*

■ အချက် (၄)၏ ရှင်းလင်းချက်

အကြင်သူသည် တမန်တော်မြတ် *(ဆွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်)*၏ လမ်းညွှန်မှုထက် ကောင်းသော လမ်းညွှန်မှုတစ်ခုရှိသည်ဟု ယုံကြည်ပါက ထို

သူသည်လည်း ကာဖိရ်ဖြစ်သည်။ ပမာအားဖြင့် ဒဿနပညာရှင်များ၊ သို့မဟုတ် ဆွာဖီ၊ သို့မဟုတ် ဆူဖီဝါဒီတို့၏ လမ်းစဉ်သည် တမန်တော်မြတ်*(ဆွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်)*၏ လမ်းစဉ်ထက် ပို ကောင်းသည်၊ ဤလမ်းစဉ်များတွင် ဟေဒါယသ် လမ်းမှန်ရှိသည်၊ သို့မဟုတ် တမန်တော်မြတ်*(ဆွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်)၏* လမ်းစဉ်တွင်ရှိသော ဟေဒါယသ်ကဲ့သို့ ရှိသည်ဟု မှတ်ယူပါက ထိုသူ သည်လည်း ကာဖိရ်ဖြစ်သည်။ အကြောင်းမှာ တမန်တော်မြတ် *(ဆွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်)*၏ လမ်းစဉ်ထက် ပို၍ ကောင်းသော လမ်းစဉ်ဟူ၍ မရှိပေ။ ထို့ပြင် တမန်တော်မြတ် *(ဆွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်)*သည် မိမိစိတ်သဘောနှင့် ပြောဆိုခြင်း မရှိပေ။ တမန်တော်ပြောသော စကားများမှာ ဝဟီဗျာ

ဒိတ်တော်များသာလျှင် ဖြစ်သည်။ အကယ်၍ အကြင်သူသည် တမန်တော်မြတ် *(ဆွလ္လလ္လာဟို့အ လိုင်ဟိဝစလ္လမ်)*၏ လမ်းစဉ်ထက် ပို၍ ကောင်းသော လမ်းစဉ်တစ်ခုရှိသည်၊ သို့မဟုတ် တမန်တော်မြတ် လမ်းစဉ်ကဲ့သို့ အခြားလမ်းစဉ် တစ်ခုရှိသည်ဟု ပြောဆို၍ ထိုလမ်းစဉ်အပေါ် လျှောက်လှမ်းမည်၊ သို့မဟုတ် ထိုလမ်းစဉ်မှတဆင့် အလ္လာဟ်အရှင်မြတ် ထံ ရောက်ဖို့ ကြိုးစားမည်၊ ပမာအားဖြင့် ဒဿန လမ်းကြောင်းမှ တဆင့် သို့မဟုတ် ဆွဖီတို့၏ လမ်း ကြောင်းမှတဆင့် သို့မဟုတ် ဆူဖီတို့၏ လမ်း ကြောင်းမှတဆင့် သို့မဟုတ် အခြား စသည့်လမ်း ကြောင်းမှ တဆင့် အလ္လာဟ်အရှင်မြတ်ထံ ရောက်ဖို့ ကြိုးစားမည်ဆိုလျှင် ထိုသူသည် ကာဖိရ် မုရ်သဒ် သာလျှင် ဖြစ်သည်။

ထိုနည်းအတိုင်းပင် အကြင်သူသည် တမန်တော်မြတ် *(ဆွလ္လလ္လာဟုိအလိုင်ဟိဝစလ္လမ်)* ၏ အမိန့်စီရင်မှုထက် ပို၍ ကောင်းသော စီရင်ဆုံးဖြတ်ချက်ရှိသည်ဟု ယုံကြည်ပါကလည်း ထိုသူသည်လည်း မွတ်စ်လင်မ်တို့၏ တညီတညွတ်တည်း ဆုံးဖြတ်ချက်အရ မုရ်သဒ်သာလျှင် ဖြစ်သည်။

ပမာအားဖြင့် လောကတွင် ပြုထားသော ဥပဒေများသည် ရှရီအသ်၏ ဥပဒေထက် ပို၍ မွန်မြတ်သည်၊ ကောင်းသည် ဟူ၍ ယုံကြည်ပါက ထိုသူသည် မုရ်သဒ် ဖြစ်သည်။ ထိုအတိုင်းပင် လောကတွင် ပြုထားသော ဥပဒေများဖြင့် စီရင်ဆုံးဖြတ်ခြင်းသည် ရှရီအသ်နှင့် စီရင်ဆုံးဖြတ်သကဲ့သို့ပင် ဖြစ်သည်ဟု မှတ်ယူသူသည်လည်း ကာဖိရ်ပင်ဖြစ်သည်။

ထိုနည်းအတိုင်းပင် အကြင်သူက ရှရီအသ်နှင့် စီရင်ဆုံးဖြတ်ခြင်းသည် လောကဥပဒေတို့နှင့် စီရင်ဆုံးဖြတ်ခြင်းထက် ပို၍ ကောင်းသည်ဟူ၍တော့ ယုံကြည်သည်။ သို့သော်လည်း လောကတွင် ပြုထားသော ဥပဒေများနှင့် စီရင်ပိုင်ခွင့်ရှိသည်ဟု ပြောဆိုပါက သူသည်လည်း ကာဖိရ်ပင်ဖြစ်သည်။

ပမာအားဖြင့် လူတစ်ဦးက ပြောမည်။ လူသားသည် အပြည့်အဝ ရွေးချယ်ခွင့်ရှိသည်။ သူသည် လောကီ ဥပဒေဖြင့်လည်း စီရင်ဆုံးဖြတ်ခွင့်ရှိသလို ရှရီအသ် ဥပဒေဖြင့်လည်း စီရင်ဆုံးဖြတ်ခွင့်ရှိသည်၊ သို့သော်လည်း ရှရီအသ် ဥပဒေမှာ ပို၍ ကောင်းပါသည်ဟု ပြောသည့်တိုင်အောင် သူသည် မွတ်စ်လင်မ်တို့၏ တညီတညွတ်တည်း ဆုံးဖြတ်ချက်အရ ကာဖိရ်ပင် ဖြစ်သည်။ အကြောင်းမှာ လူသားသည် ဤနှစ်ခု

ကြား ကြိုက်ရာတစ်ခုကို ရွေးချယ်ဖို့ အခွင့်အလမ်း မရှိပေ။ ဤသည် သာသနာ၏ မရှိမဖြစ် လိုအပ်သော ယုံကြည်ချက်တစ်ခု ဖြစ်သည်။ ရှရီအသ် ဥပဒေဖြင့် တရားစီရင်ခြင်းသည် လူတိုင်းအပေါ်တွင် အရေးကြီးသော အချက်ဖြစ်သည်။ သို့သော်လည်း လူတစ်ဦးက ရှရီအသ်နှင့် စီရင်ဆုံးဖြတ်ချက် ချခြင်းသည် ဝါဂျစ်ဗ် မဟုတ်၊ မည်သည့် လူသားပင်ဖြစ်စေ လောကီဥပဒေတို့နှင့်လည်း စီရင်ချက်ဆုံးဖြတ်ချက် ချနိုင်သည်ဟု ပြောဆိုပါက ထိုသူသည် ကာဖိရ် ဖြစ်သည်။

ထို့ကြောင့် အထက်ဖော်ပြပါ အခြေအနေ ၃ ရပ်စလုံးတွင် ထိုသူသည် ကာဖိရ်ဖြစ်ပါသည်။

သို့သော် စတုတ္တအခြေအနေ တစ်ရပ် ရှိပါသေးသည်။ ယင်းမှာ လူတစ်ဦးသည် လောကီဥပဒေနှင့် ပြဿနာတစ်စုံတစ်ရာတွင် စီရင်ဆုံးဖြတ်မည်။ သို့သော်လည်း ရှရီအသ်၏ ဥပဒေဖြင့် စီရင်ဆုံးဖြတ်ဖို့ အရေးကြီးကြောင်းကို သူက ယုံကြည်ထားမည်။ လောကီဥပဒေနှင့် တရားစီရင်ခွင့် မရှိသည်ကိုလည်း သူယုံကြည်ထားမည်။ အလ္လာဟ်အရှင်မြတ် ချမှတ်ပေးသော အရာမှ လွဲ၍ အခြားအရာနှင့် တရားစီရင်ခွင့် မရှိကြောင်းကိုလည်း သူယုံကြည်ထားမည်။ သူသည် လောကီဥပဒေကို တရားစီရင် ရမည့် ဥပဒေဟု မှတ်ယူခြင်းအားဖြင့် ပြစ်ဒဏ်ထိုက်တန်သူ ဖြစ်ကြောင်းကိုလည်း သူယုံကြည်ထားမည်။ သို့သော်လည်း သူသည် မိမိ၏ စိတ်ကို မနိုင်ဘဲ ရှိုင်သွာန်၏ လွှမ်းမိုးမှုကို ခံရပြီးနောက် အလ္လာဟ်အရှင်မြတ်

ချမှတ်ပေးသော အရာမှ လွဲ၍ အခြားအရာဖြင့် တရားစီရင်ခဲ့မည်၊ မိမိ၏ မိတ်ဆွေ ဖြစ်လို့၊ မိမိ အိမ်နီးချင်းဖြစ်လို့ မိမိနှင့် သားချင်းတော်စပ်လို့ တရားလိုကို အကျိုးပြုရန်အတွက် လောကီဥပဒေ နှင့် တရားစီရင်ပေးခဲ့မည်၊ သို့မဟုတ် တရားခံသည် မိမိရန်သူဖြစ်လို့ သူ့ကို ဒုက္ခပေးရန်အတွက် အလ္လာဟ်အရှင်မြတ် ချပေးသော အရာမှ လွဲ၍ အခြားဥပဒေဖြင့် တရားစီရင်ပေးခဲ့မည်၊ သို့သော် လည်း သူ၏ စိတ်ထဲမှာ အလ္လာဟ်အရှင်မြတ် ချမှတ် ပေးသော အရာဖြင့်သာလျှင် တရားစီရင်ဖို့ အရေး ကြီးကြောင်းကို သိထားမည်၊ ထိုအမိန့်ကို ဖီဆန် ခြင်းအားဖြင့် သူသည် အပြစ်ကို ကျူးလွန်သောသူ ဖြစ်သည်ဟုလည်း စိတ်ထဲက မှတ်ယူထားမည် ဆို လျှင် ဤပုဂ္ဂိုလ်သည် သာသနာ့ဘောင်မှ ထွက်သွား

သော ကုဖ်ရ်အမူကို ကျူးလွန်ရာတော့ မရောက်ပေ။ သို့သော ကုဖ်ရ်အသေးစားကို ကျူးလွန်ရာတော့ ရောက်ပေသည်။

ထို့ကြောင့် အလ္လာဟ်အရှင်မြတ် ချမှတ်ပေးသောအရာမှ လွဲ၍ အခြားအရာဖြင့် တရားစီရင်ခြင်း၏ အခြေအနေ ၄ ရပ်ရှိပါသည်။ အခြေအနေ ၃ ရပ်တွင် ကုဖ်ရ်အကြီးစားဖြစ်၍ စတုတ္ထမြောက် အခြေအနေတွင်မူ ကုဖ်ရ် အသေးစားဖြစ်သည်။

## ***မတ်စ်အလဟ်တစ်ခု***

ရှရီအသ်ဥပဒေအလုံးစုံကို ဖျက်သိမ်း၍ လောကီဥပဒေနှင့် အစားထိုးခြင်း။

အကြင်သူသည် လောကီဥပဒေအလုံးစုံကို ပြဋ္ဌာန်းပြီးနောက် ရှရီအသ်ဥပဒေ အလုံးစုံကို ဖျက်သိမ်း

လိုက်မည်ဆိုလျှင် ထိုသူသည် သာသနာကို ပြောင်း လဲလိုက်ခြင်းသာ ဖြစ်သည်။ ထို့ကြောင့် ပညာရှင်တို့ အနက် အုပ်စုတစ်စုသည် ထိုသို့သော ပုဂ္ဂိုလ်သည် လည်း ကာဖိရ်ဖြစ်ကြောင်း မှတ်ယူပါသည်။ အကြောင်းမှာ သူသည် အလ္လာဟ့်သာသနာကို ပြောင်းလဲပစ်လိုက်သည်။ ထိုဖသ်ဝါအတိုင်း ယခင် ဆော်ဒီနိုင်ငံ၏ မုဖ်သီချုပ် ရှိုင်ခ် မုဟမ္မဒ် အိဗ်နေ့ အိဗ်ရာဟီးမ်က ဖသ်ဝါပေးခဲ့ပါသည်။ အကြောင်းမှာ သူသည် မတ်စ်အလဟ်တစ်ခုတည်းတွင် မကာဘဲ သာသနာကို အစအဆုံး ပြောင်းလဲပစ်လိုက်ခြင်း ကြောင့် ဖြစ်သည်။ အကြင်သူသည် အမိန့်စီရင် ချက်များ ကဏ္ဍအစုံတွင် ရှရီအသ်တစ်ခုလုံးကို ပယ်ဖျက်လိုက်ပါက သို့မဟုတ် အခြားဥပဒေဖြင့်

အစားထိုးလိုက်ပါက ထိုသူသည် ကာဖိရ်ဖြစ်ပြီဟု သူက ဖသ်ဝါပေးခဲ့သည်။

ဤအတိုင်းပင် ရှိုင်ခ်အဗ်ဒုလ်အဇီးဇ် ဗင်န်ဗားစ်(ရဟ်)ကလည်း ဖသ်ဝါပေးပါသည်။ သို့သော် သူ၏ ဖသ်ဝါမှာ အချက်တစ်ချက် အပိုပါပါသည်။ ထိုပုဂ္ဂိုလ် ကာဖိရ်ဖြစ်ရန်မှာ လောကီဥပဒေများနှင့် တရားစီရင်ပိုင်ခွင့်ရှိသည်ဟု ယုံကြည်ချက်ထားမှသာလျှင် ထိုပုဂ္ဂိုလ်သည် ကာဖိရ်ဖြစ်ပေလိမ့်မည်။ ထို့ကြောင့် ဤသည် ပဥ္စမမြောက် အခြေအနေဖြစ်ပါသည်။

နောက် ဆဌမမြောက် အခြေအနေ တစ်ရပ်လည်း ရှိပါသေးသည်။ ထိုအခြေအနေမှာ ရှရီအသ် ဥပဒေပညာရှင်၊ အုပ်ချုပ်သူက အစွမ်းကုန် ကြိုးစား

၍ ရှရီအသ်၏ အမိန့်ကို သိရှိရန် ရှာဖွေခဲ့မည်။ ထို့နောက် သူသည် အလ္လာဟ်အရှင်မြတ် ချမှတ်ပေးသော အရာမဟုတ်ဘဲ အခြားအရာနှင့် မှားယွင်းကာ တရားစီရင်ခဲ့မိမည်ဆိုလျှင် ထိုသူသည် ကာဖိရ် မဟုတ်ပေ။ အပြစ်ကျူးလွန်ရာလည်း မရောက်ပေ။ သို့သာမက သူသည် မုဂ်ျသဟိဒ် ဖြစ်သည်။

သူ့အတွက် အကျိုးကုသိုလ်တစ်ခု ရှိပေသည်။ အကြောင်းမှာ တမန်တော်မြတ် (ဆွလ္လလ္လာဟို့ အလိုင်ဟိဝစလ္လမ်)က မိန့်တော်မူခဲ့သည်။ အုပ်ချုပ်သူသည် အစွမ်းကုန်ကြိုးစားပြီးနောက် တရာစီရင်ခဲ့၍ မှန်ခဲ့မည်ဆိုလျှင် သူ့အတွက် အကျိုးကုသိုလ် ၂ ခု ရှိ၍ မှားခဲ့မည်ဆိုလျှင် သူ့အတွက် အကျိုးကုသိုလ် ၁ ခု ရှိပေသည်။ ဤအမှားမျိုးသည် ခွင့်လွှတ် ချမ်းသာခြင်းခံရသော အမှားမျိုးဖြစ်သည်။ အစွမ်းကုန်

ကြိုးစားခဲ့မည်ဆိုလျှင် သူသည် အကျိုးကုသိုလ် တစ်ခုတောင် ရရှိပေဦးမည်။ အကယ်၍ သူသည် အစွမ်းကုန်ကြိုးစားခဲ့ပြီးနောက် မှန်လည်း မှန်ခဲ့မည် ဆိုလျှင် အစွမ်းကုန် ကြိုးစားခဲ့သည့်အတွက် ကုသိုလ်တစ်ခုနှင့် မှန်ခဲ့သည့်အတွက် အကျိုး ကုသိုလ် တစ်ခု စုစုပေါင်း အကျိုးကုသိုလ် ၂ ခုရရှိ ပေလိမ့်မည်။

*၅။ တမန်တော်မြတ်(ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်) ယူဆောင်လာခဲ့သော အရာများအနက် တစ်ခုခုကို မလိုလား မုန်းတီးသူသည် ယင်းအရာကို ကျင့်သုံး နေသူ ဖြစ်လင့်ကစား ကာဖိရ်သာ ဖြစ်သည်။*

■ အချက် (၅)၏ ရှင်းလင်းချက်

ပမာအားဖြင့် လူတစ်ဦးသည် ဆွလားသ်ကို မှန်းတီးမည်ဆိုလျှင် ထိုသူသည် ဆွလားသ်ဝတ်ပြုနေလင့်ကစား ကာဖိရ်ပင်ဖြစ်သည်။ သို့မဟုတ် ဆွလားသ်ဝတ်ပြုမှုကို ရှုံ့ရှာမည်ဆိုလျှင် ထိုသူသည် ကာဖိရ်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်၏ စကားတော်က ဤအချက်ကို ညွှန်ပြနေပါသည်။

ذٰلِكَ بِاَنَّهُمۡ كَرِهُوۡا مَاۤ اَنۡزَلَ اللّٰهُ فَاَحۡبَطَ اَعۡمَالَهُمۡ ۝٩

(၉) ထိုသို့ ဖြစ်ရခြင်းမှာ အလ္လာဟ် အရှင်မြတ် ချပေးတော်မူသော အရာ(အမိန့်တော်များ)ကို အမှန်စင်စစ်သူတို့သည် စက်ဆုပ်ခဲ့ကြသည့် အတွက်ကြောင့်ဖြစ်သည်။ သို့ဖြစ်ရာ အရှင်မြတ်သည် သူတို့၏လုပ်ရပ်များကို အလဟဿ အကျိုးမဲ့ ဖြစ်စေတော်မူခဲ့သည်။ (စူရဟ်မုဟမ္မဒ်၊ ၆)

ထို့ကြောင့် လူတစ်ဦးသည် တမန်တော်မြတ် (ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်) ယူဆောင်လာခဲ့သော ဝါဂျစ်ဗ်အချက် တစ်ချက်ချက်ကို၊ သို့မဟုတ် စဝါးဗ် ရရှိစေမည့် အချက်တစ်ချက်ချက်ကို၊ သို့မဟုတ် ပြစ်ဒဏ်ခံရမည့် အချက်တစ်ချက်ချက်ကို မုန်းတီးခဲ့ပါက ပမာအားဖြင့် ဇေနာလုပ်သူကို ပြစ်ဒဏ်ခတ်ရမည့်အချက်၊ သို့မဟုတ် ခိုးသူကို ပြစ်ဒဏ်ခတ်ရမည့် အချက်တို့ကို မုန်းတီးခဲ့မည်၊ စက်ဆုပ် ရွံ့ရှာခဲ့မည်ဆိုလျှင် ထိုသူသည် ကာဖိရ်ဖြစ်ပေသည်။ အကြောင်းမှာ သူသည် အလ္လာဟ်အရှင်မြတ် ချမှတ်ပေးသောအရာကို စက်ဆုပ်ရွံ့ရှာ မုန်းတီးသောကြောင့် ဖြစ်သည်။

၆။ အကြင်သူသည် အလ္လာဟ်အရှင်မြတ်၏ သာသနာတော်ထဲက တစ်စုံတစ်ခုကို၊ သို့မဟုတ် ဆဝါးဗ် (အကျိုးကုသိုလ်) ချီးမြှင့်မှုတစ်ခုခုကို၊ သို့မဟုတ် ပြစ်ဒဏ်တစ်ခုခုကို ပြက်ရယ် လှောင်ပြောင်မည်ဆိုပါက ထိုသူသည် ကာဖိရ်ဖြစ်သည်။ အထောက်အထားကတော့ အလ္လာဟ်အရှင်မြတ်၏ အောက်ပါစကားတော်ဖြစ်သည်။

9|65| (ဟယ်အချင်းတို့) အသင်တို့သည် အလ္လာဟ်အရှင်မြတ်အားလည်းကောင်း၊ ထိုအရှင်မြတ်၏ အာယတ်တော်များကိုလည်းကောင်း၊ ထို အရှင်မြတ်၏ ရစူလ်တမန်တော်မြတ်အား လည်းကောင်း၊ ပြက်ရယ်ပြောင်လှောင်ကြလေသလော။ 9|66| အသင်တို့သည် (အချည်းနှီး) အကြောင်း မပြုကြကုန်လင့်။ စင်စစ် ကေန် အသင်တို့သည် မိမိတို့

*အီမာန်သက်ဝင်ယုံကြည်ကြောင်း ထုတ်ဖော်ပြောဆိုပြီးနောက် သွေးဖည်ငြင်းပယ်ခဲ့ကြလေပြီ။*

■ အချက် (၆)၏ ရှင်းလင်းချက်

ပမာအားဖြင့် အကြင်သူသည် ဆွလားသ်ဝတ်ပြုခြင်း၊ သို့မဟုတ် ဇကားသ်ပေးဆောင်ခြင်း၊ သို့မဟုတ် ဆွလားသ်ဝတ်ပြုသူများကို ပြောင်လှောင်မည်။ သူတို့၏ ကိုယ်ပိုင် အချင်းအရာ လက္ခဏာများကို လှောင်သည်မဟုတ်ဘဲ၊ ဝတ်ပြုလို့ လှောင်မည်။ သို့မဟုတ် ဟာဂျီများကို လှောင်မည်။ သို့မဟုတ် သွဝါးဖ်လုပ်သူများကို လှောင်မည်။ သို့မဟုတ် ဂျန္နသ်တွင် ရရှိမည့် ကုသိုလ် တစ်စုံတစ်ခုကို လှောင်မည်။ ပမာအားဖြင့် သူက ပြောမည်။ သောင်ဟီးဒ်သမားက ဂျန္နသ်ကို ဝင်ရောက်ရမယ်တဲ့ကွာ၊ ဂျန္နသ်

ထဲမှာ မည်သို့ မည်ပုံ စည်းစိမ်တွေ ရှိသတဲ့ကွာ ဟူ၍ လှောင်ပြောင်၍ ပြောမည်။ သို့မဟုတ် ဂျဟန္နမ်ကို လှောင်ပြောင်မည်ဆိုလျှင် ထိုသို့ လှောင်ပြောင်ခြင်း ကြောင့် ထိုသူသည် ကာဖိရ်ဖြစ်ပါသည်။ အကြောင်း မှာ အလ္လာဟ်အရှင်မြတ်က မိန့်တော်မူထားသည်။

قُلۡ اَبِاللّٰهِ وَاٰيٰتِهٖ وَرَسُوۡلِهٖ كُنۡتُمۡ تَسۡتَهۡزِءُوۡنَ ﴿٦٥﴾ لَا تَعۡتَذِرُوۡا قَدۡ كَفَرۡتُمۡ

بَعۡدَ اِيۡمَانِكُمۡ

(အို- တမန်တော်) အသင် ပြောလိုက်ပါ- “အသင်တို့ သည် အလ္လာဟ်အရှင်မြတ်နှင့် အရှင်မြတ်၏ အာယသ်တော်များ သာမက အရှင်မြတ်၏ တမန် တော်ကိုပါ ပြက်ရယ် ပြောင်လှောင်နေကြသလော။” (၆၆) အသင်တို့သည် အကြောင်း မပြကြလေနှင့်။ အမှန်စင်စစ် အသင်တို့သည် အသင်တို့ အီမာန်

ယုံကြည်(သည်ကို ထုတ်ဖော်ပြောဆို) ပြီးနောက် သေွဖည် ငြင်းပယ်ခဲ့ကြသည်။ (စူရဟ် သောင်ဗဟ်၊ ၆၅)

ဤအာယသ်တော်သည် တမန်တော် မြတ်(ဆွ လ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်)ကို လှောင်ပြောင်ခဲ့ကြသော အုပ်စုတစ်စုနှင့် ပတ်သက်၍ သဗူးက်စစ်ပွဲတွင် ကျရောက်ခဲ့ပေသည်။ ၎င်းတို့က ပြောခဲ့သည်။ ကျွနုပ်တို့သည် မိမိတို့၏ ကာရီတွေလောက် ဝမ်းကျောင်းတဲ့သူ၊ နှုတ်လျှာမှာ မုသားဖြင့် ပြည့်နှက်နေတဲ့သူတွေ၊ ရန်သူနှင့်တွေ့သည့်အခါ သူရဲဘောကြောင်ကြသူတွေကို မတွေ့ဖူးပေ။ ၎င်းတို့သည် တမန်တော်မြတ်(ဆွ လ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်)နှင့် သာဝကများကို ရည်ညွှန်း၍ လှောင်ပြောင်ခဲ့ခြင်း

ဖြစ်သည်။ ထိုသူတို့နှင့် ပတ်သက်၍ ဤအာယသ် တော်ကျရောက်လာခဲ့သည်။

ထိုနည်းအတိုင်းပင် အလ္လာဟ်အရှင်မြတ်ကို ဆဲဆိုပါက၊ ရစူလ်တမန်တော်မြတ်ကို ဆဲဆိုပါက အစ္စလာမ်ကို ဆဲဆိုပါက ထိုသို့ဆဲခြင်းဖြင့် ထိုသူသည် ကာဖိရ်ဖြစ်ပေသည်။

*၇။ ဂျာဒူပယောဂပြုလုပ်ခြင်း။ စုန်းအတတ်ဖြင့် ပြုစားခြင်း။ ပယောပပြုလုပ်ခြင်းတွင် တစ်ယောက် ယောက်ကို မုန်းအောင်၊ သို့မဟုတ် တစ်ယောက် ယောက်ကို ချစ်အောင် ဆေးလုပ်ခြင်း၊ စုန်းပြုစား ခြင်း၊ ပယောဂလုပ်ခြင်းလည်း ပါသည်။ ဂျာဒူ ပယောဂလုပ်သူ၊ သို့မဟုတ် ပယောဂလုပ်ခြင်းကို*

ကျေနပ်သူသည် ကာဖိရ်ဖြစ်သည်။ အထောက် အထားကတော့ အလ္လာဟ်အရှင်မြတ်၏ အောက်ပါ စကားတော်ဖြစ်သည်။

2/102/ ထိုအပါးတော်စေတမန် နှစ်ပါးတို့သည် (မိမိတို့ထံကျရောက်သော စုန်းပယောဂအတတ်များကို) မည်သူတစ်ဦးကိုမျှ သင်ကြားပေးလေ့မရှိ။ (သင်ကြားပို့ချပေးပါရန် တောင်းဆို လျှောက်ထားလာသူတို့ကို အိုအချင်းတို့) အကျွန်ုပ်တို့သည် အလ္လာဟ် အရှင်မြတ်၏ အထံတော်မှ (အသင်တို့အဖို့) အစမ်း အသပ်တစ်ရပ်အဖြစ်နှင့်သာလျှင် ဆင်းသက် ရောက်ရှိ လာကြသည်။ အသင်တို့သည် (ဤစုန်း ပယောဂ အတတ်ကို ဆည်းပူးလေ့လာပြီး) ကာဖိရ် အယူကို မလိုက်စားကြကုန်လင့် (ဟု သွန်သင် ဆုံးမ၍ မြစ်တားကြလေသည်)။

■ အချက် (၇)၏ ရှင်းလင်းချက်

အကြောင်းမှာ ဂျာဒူပယောဂ လုပ်သူသည် ရှိုင်သွာန်၏ အကူအညီဖြင့် လုပ်ရသည်။ သူသည် ရှိရ်က်ကိစ္စရပ်တစ်ခုခုနှင့် ဂျင်န်ရှိုင်သွာန်ဆီ ချဉ်းကပ်ရသည်။ ထို့နောက်မှ ဂျင်န်ရှိုင်သွာန်က ၎င်းကို ကူညီသည်။ တစ်နည်းအားဖြင့်ဆိုသော် ဂျာဒူပယောဂ လုပ်ခြင်းသည် ဂျာဒူပယောဂ လုပ်သောသူနှင့် ဂျင်န်ရှိုင်သွာန်၏ ကြားတွင် မျှတသော အပေးအယူ တစ်ခုသာလျှင်ဖြစ်သည်။ ကတိကဝတ်တစ်ခုသာ လျှင်ဖြစ်သည်။ ဂျင်န်ရှိုင်သွာန်သည် ဂျာဒူပယောဂလုပ်သူကို သူက အလ္လာဟ်အရှင်မြတ်နှင့်အတူ ရှိရ်က် တုဖက်ကိုးကွယ်မှသာလျှင် ကူညီသည်။ ရှိရ်က် အမှုနှင့် ရှိုင်သွာန်ဂျင်န်ထံ ချဉ်းကပ်မှု ရယူမှသာလျှင် ရှိုင်သွာန်က ၎င်းကို ကူညီသည်။ ပမာအားဖြင့် အလ္လာဟ်အရှင်

မြတ်မှ လွဲ၍ ထိုဂျင်န်ရှိုင်သွာန်ကို ဟစ်ခေါ်တသခြင်း သို့မဟုတ် ထိုရှိုင်သွာန်အတွက် သားကောင်ကို ဇဗဟ်လုပ်ရခြင်းတို့ကို ဆောင်ရွက်ရသည်။ သို့မဟုတ် ဂျင်န်က ၎င်းကို ခြေထောက် ၂ ဖက်နှင့် ကုရ်အာန်ကျမ်းတော်မြတ်ကို တက်နင်းခိုင်းမည်။ သို့မဟုတ် ကုရ်အာန်အပေါ်တွင် ကျင်ငယ် စွန့်ခိုင်းမည်။ သို့မဟုတ် အညစ်အကြေးများနှင့် ကုရ်အာန်ကို လူးခိုင်းမည်။ ထို့ကြောင့် ဂျာဒူပယောဂ လုပ်သူသည် ကုဖ်ရ်အမှုကို ကျူးလွန်လိုက်မည်ဆိုလျှင် ရှိုင်သွာန်က ၎င်းကို ကူညီသည်။ ပမာအားဖြင့် ၎င်းကို အကွယ်ကိစ္စ တစ်စုံတစ်ခုကို ပြောပြမည်။ သို့မဟုတ် တချို့အရာများကို သူ့အတွက် ခိုးလာမည်။ သို့မဟုတ် သူ့အမိန့်ကို နာခံ၍ လူတစ်ဦး တစ်ယောက်ကို ရိုက်ပုတ်လိုက်မည်။ ဤသို့ပင် ဂျာဒူ

ပယောဂ လုပ်သူရော ဂျာဒူပယောဂအပေါ် ကျေနပ်သူရော ကာဖိရ်ပင်ဖြစ်သည်။ အကြောင်းမှာ ကျေနပ်သူသည် လုပ်ဆောင်သူကဲ့သို့ပင် ဖြစ်သည်။ အလ္လာဟ် အရှင်မြတ်က မိန့်တော်မူထားသည်။

مَا يُعَلِّمٰنِ مِنْ اَحَدٍ حَتّٰى يَقُوْلَآ اِنَّمَا نَحْنُ فِتْنَةٌ فَلَا تَكْفُرْ ۖ

ထို(ကောင်းကင်တမန်) နှစ်ပါးက "ကျွန်ုပ်တို့သည် စမ်းသပ်မှုအတွက် (ရောက်လာခြင်း) ဖြစ်သည်။ ထို့ကြောင့် အသင်သည် (စုန်းပယောဂ မှော်အတတ်ပညာ နောက်ကိုလိုက်ပြီး) ကုဖ်ရ် ငြင်းပယ်မှု မပြုနှင့်"ဟု မပြောမချင်း မည်သူတစ်ဦးကိုမျှ (ထိုစုန်းပယောဂ အတတ်များကို) သင်မပေးကြပေ။ (စူရဟ် ဗကရဟ်၊၁၀၂)

ဤဂျာဒူပယောဂ လုပ်ခြင်းသည် ရှိုင်သွာန်နှင့် အဆက်အသွယ်လုပ်မှသာလျှင် ဖြစ်နိုင်ပေသည်။ သို့သော်လည်း နောက်ထက် ပယောဂတစ်ခုရှိပေသည်။ ထိုပယောဂတွင် ရှိုင်သွာန်နှင့် အဆက်အသွယ် လုပ်စရာ မလိုပေ။ ပမာအားဖြင့် ဂျာဒူပယောဂ လုပ်သူတစ်ဦးရှိမည်။ သူသည် ရှိုင်သွာန်နှင့် ဆက်သွယ်မှု မလုပ်ပေ။ သို့သော်လည်း လူတို့ကို ဆေးဝါးများ၊ အခိုးများပေး၍ သူတို့ကို နစ်နာအောင် တစ်စုံတစ်ခုသော အရာများကို တိုက်ကျွေးမည်။ လူတို့၏ ဥစ္စာပစ္စည်းများကို မတရားသဖြင့် ယူမည်။ ဤဆောင်ရွက်ချက်များကို သူက လုပ်ပိုင်သည်ဟု မှတ်ယူပါက ကာဖိရ်ဖြစ်သည်။ လူတို့၏ ဥစ္စာပစ္စည်းများကို မတရားစားသုံးခြင်းကို ပိုင်သည်ဟု မှတ်ယူပါက၊ လူတို့ကို ဒုက္ခပေးခြင်းအား ပိုင်သည်ဟု မှတ်ယူပါက

ကာဖိရ်ဖြစ်သည်။ အကယ်၍ သူသည် ထို ကိစ္စရပ် များကို လုပ်ပိုင်သည်ဟု မမှတ်ယူပါက သူသည် ကြီးလေးသော ပြစ်မှုတစ်ခုကို ကျူးလွန်ရာသာ ရောက်ပေသည်။ အကြောင်းမှာ ထိုဂျာဒူပယောဂ လုပ်သူသည် ရှိုင်သွာန်နှင့် အဆက်အသွယ်ပြုခြင်း မလုပ်ပေ။ ရှိုင်သွာန်နှင့် အဆက်အသွယ်လုပ်ရသော ဂျာဒူပယောဂ ဆရာသာလျှင် ကာဖိရ်ဖြစ်သည်။ အကြောင်းမှာ ဂျာဒူပယောဂနှင့် ကုဖ်ရ်သွေဖီမှုသည် အမြဲ ဒွန်တွဲလျက်ရှိသည်။

*၈။ မွတ်စ်လင်မ်တို့နှင့် ဆန့်ကျင်ဘက်တွင် မုရှ်ရိက် များကို ကူညီခြင်း။ (ဤသည်လည်း အစ္စလာမ် ပျက် စေသော အချက်ဖြစ်သည်။) အထောက်အထားမှာ*

*အလ္လာဟ်အရှင်မြတ်၏ အောက်ပါ စကားတော် ဖြစ်သည်။*

*5/51/ ၎င်း (ယဟူဒီနှင့်ခရစ်ယာန်) တို့သည် (အသင်တို့ကို ဆန့်ကျင်ရာတွင်) အချင်းချင်း တစ်ဦးကို တစ်ဦး ယိုင်းပင်းကူညီသော အဆွေခင်ပွန်းများပင် ဖြစ်ကြပေသည်။ အမှန်သော်ကား အသင်တို့အနက် မည်သူမဆို ထိုသူတို့အား 'ကလျာဏ' အဆွေခင်ပွန်း ပြုလုပ်သည်ရှိသော် ထိုသူသည် ကေန်မုချ ၎င်းတို့တွင် (အပါအဝင်) ဖြစ်၏။ မလွဲကေန် အလ္လာဟ်အရှင်မြတ်သည် မတရား ကျူးလွန်သူတို့အား တရားလမ်းမှန်သို့ ပို့ပေးတော်မူမည်မဟုတ်ပေ။*

■ အချက် (၈)၏ ရှင်းလင်းချက်

အကယ်၍ ထိုပုဂ္ဂိုလ်သည် မွတ်စ်လင်မ်တို့နှင့် ဆန့်ကျင်၍ မုရှ်ရစ်က်များကို ကူညီမည်ဆိုလျှင် သူသည် မုရှ်ရစ်က်တို့ကို အဆွေခင်ပွန်း သတ်မှတ်သည့်သဘောပင်ဖြစ်သည်။ မုရှ်ရစ်က်တို့ကို ချစ်ခင်နှစ်သက်သည့် သဘောပင်ဖြစ်သည်။ ထိုမုရှ်ရစ်က်တို့ကို ချစ်ခင်မြတ်နိုးခြင်းသည် ဘာသာပျက်စေသော အချက်ပင်ဖြစ်သည်။ အကြောင်းမှာ ၎င်းတို့နှင့် အဆွေခင်ပွန်းဖွဲ့ခြင်းသည် ၎င်းတို့ကို ချစ်ခြင်းဖြစ်သည်ဟု ညွှန်ပြနေပေသည်။ အကယ်၍ ၎င်းက မွတ်စ်လင်မ်တို့နှင့် ဆန့်ကျင်၍ မုရှ်ရစ်က်တို့ကို ဥစ္စာပစ္စည်းဖြင့်လည်းကောင်း၊ လက်နက် တန်ဆာပလာဖြင့် လည်းကောင်း၊ အကြံဉာဏ်ဖြင့် လည်းကောင်း ကူညီခဲ့မည်ဆိုလျှင် သူသည် ထိုမုရှ်ရစ်က်များကို ချစ်ခင်သည်ဟု အတိအလင်းသိနေရပေသည်။ ထို့

ကြောင့် အဆွေခင်ပွန်းသတ်မှတ်ရခြင်း၏ အဓိက အကြောင်းအရင်းမှာ ချစ်ခင်ခြင်းပင်ဖြစ်သည်။ ထိုမှ တဆင့် အကြံအဉာဏ်ဖြင့် လည်းကောင်း၊ ဥစ္စာ ပစ္စည်းဖြင့် လည်းကောင်း၊ လက်နက်တန်ဆာပလာ ဖြင့် လည်းကောင်း၊ ကူညီခြင်းတို့ ထောက်ပံ့ခြင်းတို့ ဖြစ်ပေါ်လာရသည်။ သူသည် မွတ်စ်လင်မ်တို့နှင့် ဆန့် ကျင်၍ မုရှ်ရစ်က်များကို ကူညီခဲ့ပါက မွတ်စ်လင်မ် တို့ထက် မုရှ်ရစ်က်တို့ကို ပိုမွန်မြတ်သည်ဟု၊ ပို၍ ဦးစားပေးသင့်သည်ဟု မှတ်ယူသည့် သဘောသက် ရောက်သွားပေသည်။ အကယ်၍ လူတစ်ဦးသည် မုရှ်ရစ်က်တစ်ဦးနှင့် ဆန့်ကျင်၍ အခြား မုရှ်ရစ်က် တစ်ဦးကို ကူညီခဲ့ပါက ထိုသူသည် ဤအချက်ထဲ တွင် စာရင်း မဝင်ပေ။

*၉။ ခဒ္ဒေရ်က တမန်တော်မူစာ(အလိုင်ဟိစ္စလာမ်)၏ ရှရီအသ်ကို မလိုက်ဘဲ ထွက်နိုင်ခဲ့သလို အချို့လူများသည် တမန်တော်မုဟမ္မဒ် (စွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်)၏ ရှရီအသ်တရားတော်မှ ထွက်နိုင်သည်ဟု ယုံကြည်သူသည် ကာဖိရ်ဖြစ်သည်။*

■ အချက် (၉)၏ ရှင်းလင်းချက်

သဘောမှာ သူသည် မုဟမ္မဒ် (ဆွလ္လလ္လာဟို့ အလိုင်ဟိဝစလ္လမ်)၏ ရှရီအသ်မှ ထွက်ခွင့်ရှိသည်ဟု ယုံကြည်ချက်ထားမည်။ တမန်တော်မြတ် (ဆွလ္လလ္လာဟို့ အလိုင် ဟိဝစလ္လမ်) ယူဆောင်လာခဲ့သော ရှရီအသ်မှလွဲ၍ အခြားရှရီအသ်နှင့် အလ္လာဟ်အရှင်မြတ်ကို ကိုးကွယ်ပိုင်ခွင့်ရှိသည်ဟု သူက ယူဆမည်။ ထိုသို့ဖြင့် သူသည် အလ္လာဟ်အရှင်မြတ်ထံ ရောက်ရှိ

၍ ဂျန္နသ်သီ တစ်ဦးလည်း ဖြစ်နိုင်သည်။ မုဟမ္မဒ် (ဆွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်)၏ သာသနာကို မကျင့်သုံးခဲ့စေကာမူ ဂျန္နသ်သို့ ဝင်ရောက်နိုင်မည်ဟု သူယူဆမည် ဆိုပါက သူသည် ကာဖိရ်ပင်ဖြစ်သည်။ ပမာအားဖြင့် အချို့ ဒဿနလမ်းစဥ်လိုက်ကြသူများသည် ဒဿန လမ်းကြောင်းဖြင့် အလ္လာဟ်အရှင်မြတ်ကို ကိုးကွယ်သည်။ သို့မဟုတ် ဆွာဗီတို့၏ လမ်းကြောင်းဖြင့် အလ္လာဟ်အရှင်မြတ်ကို ကိုးကွယ်သည်။ သို့မဟုတ် ဆူဖီ ဝါဒလမ်းကြောင်းဖြင့် အလ္လာဟ်အရှင်မြတ်ကို ကိုးကွယ်သည်။ ထိုလမ်းကြောင်းတို့ဖြင့် သူသည် အလ္လာဟ်အရှင်မြတ်ထံသို့ ရောက်ရှိမည်ဟု ယုံကြည်ယူဆသည်။ မုဟမ္မဒ် (ဆွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်)၏ လမ်းကြောင်းဖြင့် အလ္လာဟ်အရှင်မြတ်ထံ ရောက်ရှိခြင်းသည်

အခြား မည်သည့် လမ်းကြောင်းနှင့်ပင် ဖြစ်စေ အလ္လာဟ်အရှင်မြတ်ထံသို့ ရောက်ရှိခြင်းတို့နှင့် အတူ တူပင်ဖြစ်သည်ဟု ယူဆပါက ထိုသူသည် ကာဖိရ် ပင်ဖြစ်သည်။ အကြောင်းမှာ အလ္လာဟ်အရှင်မြတ် ထံတော်သို့ ရောက်ရှိရန် လမ်းကြောင်းမှာ မုဟမ္မဒ် (ဆွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်)၏ လမ်းကြောင်း တစ်ခုသာလျှင် ရှိသည်။ မည်သူမှ တမန်တော်မြတ် ၏ ရှရီအသ်မှ ထွက်ခွင့် မရှိပေ။ အကြောင်းမှာ တမန်တော်မြတ်၏ ရှရီအသ်သည် ဂျင်န်၊ လူသား အားလုံးအတွက် ဖြစ်သည်။ နောက်ဆုံးချုပ် ရှရီ အသ် ဖြစ်သည်။ ခဒွေရ်က မူစာ (အလိုင်ဟိစ္စလာမ်) ၏ ရှရီအသ်ဘောင် အတွင်းမှ ထွက်ခြင်းသည် အထောက်အထားမဟုတ်ပေ။ အကြောင်းမှာ မူစာ (အလိုင်ဟိစ္စလာမ်)၏ ရှရီအသ်သည် မုဟမ္မဒ် (ဆွလ္လ

လ္လာဟို့အလိုင်ဟိဝစလ္လမ်)၏ ရှရီအသ်ကဲ့သို့ တစ်လောကလုံးအတွက် မဟုတ်ပေ။ ထို့ပြင် ခဒ္ဒေါ်ရ်သည် အမှန်ဆုံး အဆိုအရ ဝဟီရရှိသော နဗီ တစ်ပါးဖြစ်သည်။ နောက်အဆို တစ်ခုအရ သူသည် နဗီတော့မဟုတ်ပေ။ သို့သော်လည်း ဗနီအစ္စရာအီးလ်ထဲမှ တစ်ဦး မဟုတ်ပေ။ ထို့ကြောင့် မူစာ (အလိုင်ဟိစ္စလာမ်)ကို စေလွှတ်ခဲ့သော ဗနီအစ္စရာအီးလ်မျိုးနွယ်ဝင် တစ်ဦး မဟုတ်ခဲ့ပေ။ မူစာ (အလိုင်ဟိစ္စလာမ်)သည် ဗနီအစ္စရာအီးလ်မျိုးနွယ်တို့ထံ စေလွှတ်ခြင်းခံရသော တမန်တော်ဖြစ်သည်။ ခဒ္ဒေါ်ရ်သည် ၎င်းတို့ထဲမှ မဟုတ်ပေ။ ထို့ကြောင့် သူသည် မူစာ (အလိုင် ဟိစ္စလာမ်) ၏ ရှရီအသ်ထဲတွင် မပါဝင်ပေ။ သို့သော်လည်း အမှန်ဆုံးအဆိုမှာ သူသည် ဝဟီရရှိသော နဗီတစ်ဦးဖြစ်သည်။ ထို့ကြောင့် မူစာ

(အလိုင်ဟိစ္စလာမ်)က ၎င်းထံ သွား၍ ပညာသင်ယူခဲ့သည်။ ၎င်းက ပြောသည်။

وَمَا فَعَلْتُهُۥ عَنْ أَمْرِى

ကျွန်ုပ်၏ လုပ်ရပ်သည် မိမိ၏ သဘောဖြင့် လုပ်ခြင်းမဟုတ်။

ထိုစကားသည် သူ့ထံသို့ ဝဟီဗျာဒိတ်တော် လာကြောင်း ညွှန်ပြနေပေသည်။ သူသည် ဝဟီရရှိသော နဗီဖြစ်ကြောင်း ညွှန်ပြနေပေသည်။ ကလေးတစ်ဦးကို သတ်ခြင်း၊ သင်္ဘောကို ဖောက်ခြင်း၊ တံတိုင်းကို တည်ဆောက်ခြင်း၊ စသည်တို့သည် အိလ်ဟာမ်ဖြင့် ပြု၍ ရသော ကိစ္စမဟုတ်ပေ။ ထိုကိစ္စရပ်များကို ဝဟီနှင့်သာလျှင် လုပ်ဆောင်နိုင်ပေသည်။

အချုပ်ကို ဆိုရပါမူ အကြင်သူသည် "ခဒွေရ်က မူစာ(အလိုင်ဟိစ္စလာမ်)၏ ရှရီအသ်မှ ထွက်ခွင့်ရှိ သလိုပင် မုဟမ္မဒ် (ဆွလ္လ လ္လာဟုို့အလိုင်ဟိဝစလ္လမ်) ၏ ရှရီအသ်မှလည်း ထွက်ခွင့်ရှိသည်ဟု ပြောဆိုပါ က သူသည် ကာဖိရ်ပင် ဖြစ်သည်။ အကြောင်းမှာ မုဟမ္မဒ်(ဆွလ္လလ္လာဟုို့အလိုင်ဟိဝစလ္လမ်)၏ ရှရီအသ် နှင့် မူစာ(အလိုင်ဟိစ္စလာမ်)၏ ရှရီအသ်မှာ ကွာခြား ပါသည်။ မုဟမ္မဒ်(ဆွလ္လလ္လာဟုို့အလိုင်ဟိဝစလ္လမ်) ၏ ရှရီအသ်သည် လူ့လောက တစ်ခုလုံးအတွက်ဖြစ်ပြီး မူစာ(အလိုင်ဟိစ္စလာမ်) ၏ ရှရီအသ်မှာမူ ဗနီအစ္စရာ အီးလ်တို့အတွက်သာလျှင် သီးသန့်ဖြစ်ပေသည်။ မူစာ(အလိုင်ဟိစ္စလာမ်)၏ ရှရီအသ်မှ ဗနီအစ္စရာ အီးလ် မဟုတ်သောသူများ ထွက်ခွင့်ရှိသည်။ မုဟမ္မဒ် (ဆွလ္လလ္လာဟုို့အလိုင်ဟိဝစလ္လမ်)၏ ရှရီအသ်

ဘောင်မှ မည်သူတစ်ဦးတစ်ယောက်မှ ထွက်ခွင့် မရှိပေ။

*၁၀။ အလ္လာ့ဟ်သာသနာကို သင်ယူကျင့်သုံးမှု မပြုဘဲ ကျောခိုင်းခြင်း။ (ဤသည်လည်း အစ္စလာမ်ပျက်စေသော အချက်ဖြစ်သည်။) အထောက်အထားကတော့ အလ္လာဟ်အရှင်မြတ်၏ အောက်ပါ စကားတော်ဖြစ်သည်။*

*32/22/ အကြင်သူထက်ပို၍ မတရားသောသူသည် မည်သူရှိအံ့နည်း။ ထိုသူသည် ၎င်းအား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်၏ အာယတ်တော်များအားဖြင့် သတိပေးခြင်းခံခဲ့ရသည်။ ထို့နောက် ထိုသူသည် ယင်းအာယတ်တော်များမှ မျက်နှာလွှဲခဲ့၏။ ကေန်မလွဲ ငါအရှင်မြတ်သည် အပြစ်ရှိသူတို့*

*အား တုံ့ပြန်လက်စားချေတော်မူမည့် အရှင်မြတ်ပင် ဖြစ်တော်မူပေသတည်း။*

*(ကုဖ်ရ်နှင့် ရှိရ်က်အမှုသည် မတရားမှု အမြောက်ဆုံး ပြစ်မှု ဖြစ်သည်။)*

*အစ္စလာမ်ကို ပျက်စေသော ဤအချက်အားလုံးတွင် အတင်းအဓမ္မပြုခြင်း ခံရသူမှလွဲ၍ ကျန်သူအားလုံး ပါဝင်ပေသည်။ ဆိုလိုသည်မှာ နောက်ပြောင် ကျီစယ် ၍ဖြစ်စေ၊ အတည်ဖြစ်စေ၊ ကြောက်၍ဖြစ်စေ အထက်ပါအချက်များအနက် တစ်ခုခုနှင့် ငြိစွန်းသူ သည် ကာဖိရ်ဖြစ်သည်။ ထိုအချက်များသည် အန္တရာယ်အကြီးဆုံးအရာများ၊ အဖြစ်အများဆုံး အရာများ ဖြစ်သည်။ ထို့ကြောင့် ဤအချက်များကို*

*သတိထားရှောင်ရှား၍ ကိုယ့်အတွက် ကိုယ်ပူရပေမည်။*

*ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်ထံပါးတွင် ထိုအရှင်မြတ်ကို အမျက်ဒေါသဖြစ်သောအရာများ၊ နာကျင်ဖွယ်ပြစ်ဒဏ်ခံရစေမည့် အကြောင်းတရားများမှ ခိုလှုံပါသည်။*

*အလ္လာဟ်အရှင်မြတ်သည် တမန်တော် မုဟမ္မဒ် အပေါ်တွင် စွလားသ်စလာမ်မေတ္တာအဖြာဖြာ ချပေးသနားတော်မူပါစေ။*

■ ရှင်းလင်းချက်

ကျမ်းရှင်က အမိန့်ရှိသည်။ ဤဘာသာပျက်စေသော အချက် ၁၀ ချက်ကို ကျူးလွန်ရာတွင် ကျူးလွန်သူသည် သိလျက် ကျူးလွန်သူဖြစ်စေ လှောင်ပြောင်

ကျီစယ်၍ ကျူးလွန်သည်ဖြစ်စေ ကြောက်ရွံ့ ထိတ်လန့်၍ ကျူးလွန်သည်ဖြစ်စေ အခြေအနေ တိုင်းတွင် ကာဖိရ်သာလျှင်ဖြစ်သည်။ ပမာအားဖြင့် သူက ထိုဘာသာပျက်စေသော အချက်တစ်ချက်ကို ကျူးလွန်ပြီးနောက် ကျွန်ုပ်သည် ကျီစယ်သော သဘောဖြင့်သာ ကျူးလွန်ခြင်း ဖြစ်သည်ဟု ပြောဆို ပါကလည်း ထိုသူသည် ကာဖိရ်ပင်ဖြစ်သည်။ အကယ်၍ ၎င်းသည် အတည်ရည်ရွယ်၍ ကျူးလွန် လျှင်လည်း ကာဖိရ်ပင်ဖြစ်သည်။ သို့မဟုတ် ကြောက်ရွံ့၍ ကျူးလွန်လျှင်လည်း ကာဖိရ်ပင် ဖြစ် သည်။

အခြေအနေတစ်ရပ်တည်းကိုသာလျှင် ခွင့်ပြုထားပါ သည်။ ထိုအခြေအနေမှာ အတင်းအဓမ္မစေခိုင်းလို့ ကုဖ်ရ်အမှုကို ကျူးလွန်ရသော အခြေအနေပင်ဖြစ်

သည်။ ပမာအားဖြင့် သူ၏ လည်ကုပ်ပေါ်တွင် ဓား တင်၍ အသင် ကုဖ်ရ်အမှုကို ကျူးလွန်ပါ။ မဟုတ် လျှင် အသင့်ကို သတ်ဖြတ်ရလိမ့်မည်ဟု အတင်း အဓမ္မ အကြပ်ကိုင်ခဲ့ပါက ထိုအခါမျိုးတွင် ကုဖ်ရ် အမှုကို ကျူးလွန်မိလျှင် ထိုသူသည် ကာဖိရ် မဖြစ် ချေ။ သို့သော်လည်း သူ၏ နှလုံးသားသည် အီမာန်နှင့် ငြိမ်းချမ်းနေရပေလိမ့်မည်။ သူ၏ နှလုံးသားကပါ ကုဖ်ရ်ကို ကျေနပ်ခဲ့ပါမူ ထိုသူသည်လည်း ကာဖိရ် ပင်ဖြစ်သည်။

ထို့ကြောင့် အခြေအနေများကို ချုပ်ကြည့်လျှင်

၁။ ကုဖ်ရ်အမှုကို တမင်တကာကျူးလွန်ခြင်း၊

၂။ ကုဖ်ရ်အမှုကို လှောင်ပြောင်ကျီစယ်၍ ကျူးလွန် ခြင်း၊

၃။ ကြောက်ရွံ့၍ ကျူးလွန်ခြင်း၊

၄။ အခြားသူက အတင်းအကြပ်ကိုင်သောကြောင့် ကျူးလွန်ခြင်း၊ သို့သော် သူ၏ နှလုံးသားသည်လည်း ကုဖ်ရ်ကို ကျေနပ်နှစ်သက်နေခြင်း။

ဤအခြေအနေ ၄ ရပ်တွင် ကျူးလွန်သူသည် ကာဖိရ် ဖြစ်သည်။

၅။ ကုဖ်ရ်အမှုကို အခြားသူက အတင်းအကြပ် ကိုင်၍ ခိုင်းသောကြောင့် ကျူးလွန်မိခဲ့သည်။ သို့သော် သူ၏ နှလုံးသားသည် အီမာန်နှင့် ငြိမ်းချမ်းနေမည်ဆိုလျှင် ထိုသူသည် ကာဖိရ်မဖြစ်ချေ။ အကြောင်းမှာ အလ္လာဟ်အရှင်မြတ်က မိန့်တော်မူထားသည်။

مَنْ كَفَرَ بِاللّٰهِ مِنْۢ بَعْدِ اِيْمَانِهٖٓ اِلَّا مَنْ اُكْرِهَ وَقَلْبُهٗ مُطْمَئِنٌّۢ بِالْاِيْمَانِ وَلٰكِنْ مَّنْ شَرَحَ بِالْكُفْرِ صَدْرًا فَعَلَيْهِمْ غَضَبٌ مِّنَ اللّٰهِ ۚ وَلَهُمْ عَذَابٌ عَظِيْمٌ ﴿١٠٦﴾

(၁၀၆) မည်သူမဆို သူအီမာန် ယုံကြည်ပြီးနောက် အလ္လာဟ် အရှင်မြတ်အား ငြင်းပယ်ခဲ့လျှင်၊ ထို (ငြင်းပယ်မှု)ထဲ၌ အကြင်သူ မပါပေ၊ ထိုသူ၏ စိတ်နှလုံးသည် အီမာန် ယုံကြည်မှုနှင့်ပင် နှစ်သိမ့် ကျေနပ်နေစဉ် အတင်းအကျပ် ပြုခြင်းခံရသည် (ဖြစ်လျှင် သူ့တွင် အပြစ်မရှိပေ)။ သို့ရာတွင် အကြင်သူ၏ စိတ်နှလုံးသည် ငြင်းပယ်မှုတွင် မွေ့လျော်ခဲ့လျှင် ထိုသူများ၏ အပေါ်တွင်မူ အလ္လာဟ် အရှင်မြတ် ထံတော်မှ အမျက်တော်သည် ကျရောက်မည် ဖြစ်သည်။ ၎င်း

နောက် သူတို့အတွက် ကြီးကျယ်သော အပြစ်ဒဏ် လည်း ရှိမည် ဖြစ်သည်။ (စူရဟ်နဟ်လ်၊ ၁၀၆)

အလ္လာဟ် အရှင်မြတ်သာလျှင် အသိဆုံးဖြစ်ပေ သည်။ ထို့ပြင် ကျွန်ုပ်တို့၏ နဗီချုပ် မုဟမ္မဒ် (ဆွလ္လ လ္လာဟို့အလိုင်ဟိဝစလ္လမ်)နှင့် သူ၏ မိသားစုများ သာဝကများအားလုံး အပေါ်တွင် အရှင်မြတ်ထံမှ မေတ္တာ ကရုဏာ အပေါင်း ခသြောင်းပါစေ။